ရက်စွဲ။ ၃-၁-၂၀၁၉

## Yoma Micro Power Myanmar Ltd. နှင့်စပ်လျဉ်း၍ လုပ်ငန်းဆောင်ရွက်မှုမှတ်တမ်း

| စဉ် | ဆောင်ရွက်သည့်အကြောင်းအရာ | ဆောင်ရွက်သည့် ရက်စွဲ | အကြောင်းပြန်ကြားသည့်ရက်စွဲ/ ကုမ္ပဏီမှတင်ပြသည့်ရက်စွဲ | မှတ်ချက် |
|---|---|---|---|---|
| ၁ | စုံစမ်းမေးမြန်းခြင်း လျှောက်ထားလွှာ တင်ပြလာခြင်း | - | - | - |
| ၂ | စုံစမ်းမေးမြန်းခြင်း လျှောက်ထားလွှာ အပေါ် အကြောင်းပြန်ကြားခြင်း | - | - | - |
| ၃ | အဆိုပြုချက်အားကုမ္ပဏီမှတင်ပြလာခြင်း | | ၁၉-၉-၂၀၁၈ | |
| ၄ | အဆိုပြုချက်အပေါ် ပြင်ဆင်တင်ပြရမည့် အချက်များ အကြောင်းကြားခြင်း | ၂၅-၉-၂၀၁၈ | | |
| ၅ | အဆိုပြုချက်အား ကုမ္ပဏီမှ လိုအပ်ချက်များ ပြင်ဆင်ပြီး ပြန်လည်တင်ပြလာခြင်း | | ၁၉-၁၀-၂၀၁၈ | |
| ၆ | အဆိုပြုချက်စိစစ်ရေးအဖွဲ့ အစည်းအဝေးသို့ တင်ပြခြင်း | ၅-၁၁-၂၀၁၈ (၃၄/၂၀၁၈) | | |
| ၇ | အဆိုပြုချက်အား လက်ခံကြောင်းပြန်ကြားခြင်း | ၁၃-၁၁-၂၀၁၈ | | |
| ၈ | ပို့ဆောင်ရေးနှင့် ဆက်သွယ်ရေးဝန်ကြီးဌာနသို့ သဘောထားတောင်းခံခြင်း | ၁၂-၁၁-၂၀၁၈ | ၂၃-၁၁-၂၀၁၈ | ၁၂ ရက် |
| ၉ | လျှပ်စစ်နှင့် စွမ်းအင်ဝန်ကြီးဌာနသို့ သဘောထား တောင်းခံခြင်း | ၁၂-၁၁-၂၀၁၈ | ၁၃-၁၂-၂၀၁၈ | ၃၀ ရက် |
| ၉ | စစ်ကိုင်းတိုင်းဒေသကြီးအစိုးရအဖွဲ့သို့ သဘော ထားတောင်းခံခြင်း | ၁၂-၁၁-၂၀၁၈ | ၁၀-၁၂-၂၀၁၈ | ၂၇ ရက် |
| ၁၀ | မကွေးတိုင်းဒေသကြီးအစိုးရအဖွဲ့သို့ သဘောထား တောင်းခံခြင်း | ၁၂-၁၁-၂၀၁၈ | ၃၀-၁၁-၂၀၁၈ | ၁၉ ရက် |
| ၁၁ | ကုမ္ပဏီမှ လိုအပ်ချက်များ ပြန်လည်ပေးပို့ခြင်း | | ၃-၁-၂၀၁၉ | |
| ၁၂ | အဆိုပြုချက်အားကော်မရှင်အစည်းအဝေးသို့ တင်ပြခြင်း | ၁/၂၀၁၉ (၁၁-၁-၂၀၁၉) | | |
| | **စုစုပေါင်းကြာမြင့်ရက်** | **၅၈ ရက်** | | |

## အဆိုပြုချက်စိစစ်ရေးအဖွဲ့၏ ဆွေးနွေးချက်၊ ဆုံးဖြတ်ချက်အပေါ် ဆောင်ရွက်ပြီးစီးမှု

ကုမ္ပဏီအမည် Yoma Micro Power Myanmar Ltd.

လုပ်ငန်းအမျိုးအစား To provide off-grid telecom towers and rural villages, grid-quality electricity through solar-powered micro power plants and mini-grids

PAT အကြိမ်/ရက်စွဲ ၃၄/၂၀၁၈(၅-၁၁-၂၀၁၈)

| စဉ် | အဆိုပြုချက်စိစစ်ရေးအဖွဲ့၏ ဆုံးဖြတ်ချက်အပေါ် ပြင်ဆင်ရန် အချက်များ | ဆောင်ရွက်ပြီးစီးမှု | မှတ်ချက် |
|---|---|---|---|
| ၁။ | ဝန်ထမ်းလစာနှုန်းထား ပြန်လည်စိစစ်တင်ပြရန်။ | ပြီး | |
| ၂။ | မြေကို အခြားနည်းအသုံးပြုခွင့်အား ဆက်လက်ဆောင်ရွက်ရန်နှင့် လုပ်ငန်းဆောင်ရွက်မည့် ကျန်မြေနေရာ အထောက်အထားများအား ဖော်ပြပေးရန်။ | ပြီး | |

အကြောင်းအရာ။ **ရာခိုင်နှုန်းပြည့် နိုင်ငံခြား ရင်းနှီးမြှုပ်နှံမှုဖြင့် မြန်မာနိုင်ငံတွင် Yoma Micro Power Myanmar Ltd. တည်ထောင်ပြီး To provide off-grid telecom towers and rural villages, grid-quality electricity through solar-powered micro power plants and mini-grids လုပ်ငန်းဆောင်ရွက်ခွင့်ပြုပါရန် အဆိုပြုတင်ပြလာခြင်းကိစ္စ**

| | | |
|---|---|---|
| ၁။ | ကုမ္ပဏီအမည် | - Yoma Micro Power Myanmar Ltd. |
| | ရင်းနှီးမြှုပ်နှံသူ | - Mr. Alakesh Chetia(အမေရိကန်နိုင်ငံသား) |
| | ရင်းနှီးမြှုပ်နှံမှုပုံသဏ္ဌာန် | - ရာခိုင်နှုန်းပြည့်နိုင်ငံခြားရင်းနှီးမြှုပ်နှံမှု<br>Yoma Micro Power (Singapore) Pte. Ltd.<br>(စင်ကာပူသမ္မတနိုင်ငံ) ၉၉.၉%<br>Yoma Strategic Investment Ltd.<br>(စင်ကာပူသမ္မတနိုင်ငံ) ၀.၁% |
| | လုပ်ငန်းအမျိုးအစား | - To provide off-grid telecom towers and rural villages, grid-quality electricity through solar-powered micro power plants and mini-grids |
| ၂။ | တည်နေရာ | - လုပ်ငန်းဆောင်ရွက်ရန် ညှိနှိုင်းပြီး ဆက်သွယ်ရေးတာဝါတိုင်မြေ နေရာ ၈ နေရာ(မြေငှားစာချုပ်များ လက်မှတ်ရေးထိုးချုပ်ဆိုပြီး)<br>- စစ်ကိုင်းတိုင်းဒေသကြီးအတွင်း ဆက်သွယ်ရေးတာဝါတိုင်မြေနေရာ ၉၁ နေရာ အား တင်ပြထားပါသည်။<br>- မကွေးတိုင်းဒေသကြီးတွင် ဆက်သွယ်ရေးတာဝါတိုင်မြေနေရာ ၃၄ နေရာ တို့တွင် ထပ်မံတပ်ဆင်သွားမည်ဖြစ်ကြောင်း တင်ပြထားပါသည်။ |
| ၃။ | မြေပိုင်ရှင်နှင့် မြေအကျယ်အဝန်း | - အဆိုပြုလုပ်ငန်းဆောင်ရွက်ရန် ညှိနှိုင်းပြီး မြေနေရာ ၉၁ နေရာအား ပူးတွဲဖြင့် တင်ပြထားပါသည်။ ဆောင်ရွက်ဆဲ/ လျှောက်ထားဆဲအခြေအနေများ နှင့် ရရှိပြီးအထောက်အထားများအား ဇယားဖြင့် ရှင်းလင်းတင်ပြထားပါသည်။**(ပူးတွဲ)** |
| | နှစ်စဉ်မြေငှားရမ်းခ | - မြေငှားစာချုပ်(မူကြမ်း)တွင် ပူးတွဲတင်ပြထားပါသည်။ |
| | မြေအသုံးပြုခွင့်သက်တမ်း | - ၂၀ နှစ် |
| ၄။ | ရင်းနှီးမြှုပ်နှံမှုပြုလုပ်လိုသည့် သက်တမ်း | - ၅၀ နှစ် |
| ၅။ | တည်ဆောက်ရေးကာလ | - ၁၅ လ |
| ၆။ | စုစုပေါင်းမတည်ငွေရင်းပမာဏ ငွေသား | -US$ ၂၈ သန်း **US$ သန်း**<br>ပထမအဆင့် (၈နေရာ) ၃.၀၀<br>ဒုတိယအဆင့်(၉၁နေရာ) ၅.၀၀<br>တတိယအဆင့်(၁၃၉နေရာ) ၆.၀၀<br>စတုတ္ထအဆင့်(၁၇၀နေရာ) ၈.၀၀<br>ပဉ္စမအဆင့်(ချေးငွေဖြင့် ဆောင်ရွက်မည်ဖြစ်သည်။) ၆.၀၀ |
| | **စုစုပေါင်း** | **၂၈.၀၀**<br>*ချေးငွေအဖြစ် US$ ၆သန်းအား International Finance Corporation-IFC မှ ချေးယူသွားမည်ဖြစ်ကြောင်း တင်ပြထားပါသည်။ |

| | | |
|---|---|---|
| ၇။ | ဝင်ငွေရရှိမှု အခြေအနေ<br>ဆက်သွယ်ရေးတာဝါတိုင်များတွင် တပ်ဆင်ရောင်းချမည့်အခြေအနေ | ထုတ်လုပ်မည့် လျှပ်စစ်ဓာတ်အား (kWh/site) / No,of sites / Revenue per month per site (US$)<br>၁၅ / ၂၂၈ / ၁,၄၀၀<br>၃၀ / ၁၃၂ / ၂,၁၂၈<br>၄၅ / ၁၅ / ၂,၆၀၀ |
| | ကျေးလက်ဒေသ အိမ်ထောင်စုများအားလျှပ်စစ်ဓာတ်အားဖြန့်ဖြူးရောင်းချမည့် အခြေအနေ) | -ကြိုတင်ငွေပေးချေသည့်စနစ်ဖြင့် Household Application Form ပုံစံသုံးမျိုးဖြင့် ရောင်းချသွားမည်ဖြစ်ပြီး ဈေးနှုန်းနှင့် သုံးစွဲနိုင်သည့် လျှပ်စစ်ဓာတ်အားများအား အဆိုပြုချက်တွင် တင်ပြထားပါသည်။ **(ပူးတွဲ)** |
| ၈။ | ရောင်းချမည့်နည်းစနစ် | - ပြည်တွင်း ၁၀၀% |
| ၉။ | ဝန်ထမ်းခန့်ထားမှု | **ပြည်တွင်း** / **ပြည်ပ**<br>ဦးရေ: ၄၉ ဦး / ၇ ဦး<br>အမြင့်ဆုံးလစာ: ၂,၉၀၀,၀၀၀ ကျပ် / ၁၄,၅၀၀,၀၀၀ ကျပ်<br>အနိမ့်ဆုံးလစာ: ၄၀၀,၀၀၀ ကျပ် / ၂,၉၀၀,၀၀၀ ကျပ် |
| ၁၀။ | ငွေကြေးအထောက်အထား | -ငွေကြေး အထောက်အထားအဖြစ် Yoma Micro Power Myanmar Ltd. မှ ကမ္ဘောဇဘဏ် (ပြည်ပဘဏ်ဌာနခွဲ) တွင် DBS Bank Ltd. (စင်ကာပူသမ္မတနိုင်ငံ)မှ ၁၉-၁၂-၂၀၁၇ ရက်စွဲဖြင့် လွှဲပြောင်းဖွင့်လှစ်ထားသည့် အမေရိကန်ဒေါ်လာ ၂၅,၀၀၀ နှင့် ရှိးမဘဏ်တွင် ၃၁-၇-၂၀၁၈ ရက်စွဲဖြင့် အမေရိကန်ဒေါ်လာ ၂၂,၇၄၄.၁၃ ရှိကြောင်းနှင့် Yoma Micro Power (Singapore) Pte. Ltd. အမည်ဖြင့် DBS Bank Ltd. (စင်ကာပူ သမ္မတနိုင်ငံ)တွင် ၃၁-၇-၂၀၁၈ ရက်စွဲဖြင့် အမေရိကန် ဒေါ်လာ ၁၁၄၃၂.၀၇ ရှိကြောင်း အထောက်အထားများ တင်ပြထားပါသည်။ |
| ၁၁။ | အခြားတင်ပြချက်များ | -Corporate Social Responsibility (CSR) အနေဖြင့် အသားတင်အမြတ်၏ ၁% သုံးစွဲမည်ဖြစ်ကြောင်း တင်ပြထားပါသည်။ |

ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်

**မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်**

စာအမှတ်၊မရက- ၅(လ)/ခ-၁၀၆/၂၀၁၉( ၀၀၉ )

ရက်စွဲ၊ ၂၀၁၉ ခုနှစ် ဇန်နဝါရီလ ၇ ရက်

**မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့**

**တင်ပြသည့် အမှာစာ**

အကြောင်းအရာ။ **ရခိုင်နှန်းပြည့် နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဖြင့် Yoma Micro Power Myanmar Ltd. တည်ထောင်ပြီး မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ဥပဒေနှင့်အညီ To provide off-grid telecom towers and rural villages, grid-quality electricity through solar-powered micro power plants and mini-grids လုပ်ငန်းဆောင်ရွက်ခွင့်ပြုပါရန် အဆိုပြုချက်တင်ပြခြင်းကိစ္စ**

၁။ ရာခိုင်နှုန်းပြည့် နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဖြင့် စင်ကာပူသမ္မတနိုင်ငံ Yoma Micro Power (S) Pte. Ltd. မှ ၉၉.၉% နှင့် Yoma Strategic Investments Ltd. မှ ၀.၁% ထည့်ဝင်၍ မြန်မာနိုင်ငံတွင် Yoma Micro Power Myanmar Ltd. တည်ထောင်ပြီး စစ်ကိုင်းတိုင်းဒေသကြီးနှင့်မကွေးတိုင်းဒေသကြီးအတွင်း To provide off-grid telecom towers and rural villages, grid-quality electricity through solar-powered micro power plants and mini-grids လုပ်ငန်းအား မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ဥပဒေနှင့်အညီ ဆောင်ရွက်ခွင့်ပြုပါရန် ကော်မရှင်သို့ အဆိုပြုချက်တင်ပြလာပါသည်။

၂။ အဆိုပြုချက်နှင့်အတူ Yoma Micro Power ၏ Technical Documentation၊ power plant design considerations များနှင့်အတူ Yoma Micro Power Myanmar Ltd. နှင့် Irrawaddy Green Towers Ltd.၊ Edotco Myanmar Limited နှင့် Telenor Myanmar Ltd. တို့အကြား လက်မှတ်ရေးထိုးချုပ်ဆိုထားသည့် Power Purchase Agreements များတင်ပြထားပါသည်။ အိမ်ခြေနှင့်ကျေးရွာများသို့ ကျေးရွာမီးလင်းရေး ကော်မတီ၏ သဘောတူညီမှုဖြင့်ကြိုတင်ငွေပေးချေသည့်စနစ်ပုံစံဖြစ်သည့် Household Application Form ဖြင့်ရောင်းချမည်ဖြစ်ကြောင်း တင်ပြထားပါသည်။

၃။ မြေငှားသက်တမ်းမှာ ကနဦးနှစ် ၂၀ ငှားရမ်းမည်ဖြစ်ပါသည်။ စစ်ကိုင်းတိုင်းဒေသကြီးအတွင်းရှိ မြေငှားစာချုပ်များ လက်မှတ်ရေးထိုးချုပ်ဆိုပြီးသည့် မြေနေရာ ၈ နေရာနှင့် ဒုတိယအဆင့်အဖြစ် မြေနေရာ ၉၁ နေရာတွင် ကနဦး ဆောင်ရွက်သွားမည်ဖြစ်ပြီး မြေအမျိုးအစားအလိုက် ဆောင်ရွက်ထားရှိမှုနှင့် လုပ်ငန်းတည်နေရာများအား ပူးတွဲပါဇယားဖြင့် တင်ပြထားပါသည်။

၄။ လုပ်ငန်း စီမံကိန်းကာလမှာ ကနဦး ၅၀ နှစ် ဖြစ်ပြီး တည်ဆောက်ရေးကာလမှာ ၁၅ လကြာမြင့်မည်ဖြစ်ကြောင်းတင်ပြထားပါသည်။

၅။ လုပ်ငန်း၏ စုစုပေါင်း မတည်ငွေရင်းပမာဏမှာ US$ ၂၈ သန်းဖြစ်ပြီး ငွေသားအဖြစ်သာ ဦးစွာ ထည့်ဝင်မည်ဖြစ်ကြောင်းနှင့် လုပ်ငန်းအား အပိုင်း၄ပိုင်းဖြင့် တည်ဆောက်အကောင်အထည် ဖော်သွားမည်ဖြစ်ကြောင်း၊ ရင်းနှီးမြှုပ်နှံမှုထည့်ဝင်မှုနှင့် စက်ပစ္စည်းတင်သွင်းမှုများအား phase အလိုက် ခွဲခြားတင်ပြထားပါသည်။ ချေးငွေအဖြစ် လုပ်ငန်းပဉ္စမအဆင့်တွင် International Finance

Corporation (IFC) မှ အမေရိကန်ဒေါ်လာ ၆ သန်း ချေးယူသွားမည်ဖြစ်ကြောင်း တင်ပြထားပါသည်။

၆။ လုပ်ငန်းဆောင်ရွက်ရန်အတွက် ပြည်တွင်းဝန်ထမ်း ၄၉ ဦးခန့်ထားမည်ဖြစ်ပြီး အနိမ့်ဆုံးလစာမှာ ၄၀၀,၀၀၀ ကျပ် နှင့် အမြင့်ဆုံးလစာမှာ ၂,၉၀၀,၀၀၀ကျပ် ဖြစ်ပါသည်။ ပြည်ပဝန်ထမ်း ၇ ဦး ခန့်ထားမည်ဖြစ်ပြီး ပြည်ပဝန်ထမ်းတစ်ဦး၏ အနိမ့်ဆုံးလစာမှာ ၂,၉၀၀,၀၀၀ ကျပ်နှင့် အမြင့်ဆုံးလစာမှာ ၁၄,၅၀၀,၀၀၀ ကျပ် ဖြစ်ပါသည်။

၇။ လုပ်ငန်းမှ ထွက်ရှိသော လျှပ်စစ်ဓာတ်အားကို ပြည်တွင်းတွင် ၁၀၀% ဖြန့်ဖြူးမည်ဖြစ်ပါသည်။ ဆက်သွယ်ရေးတာဝါတိုင်များ အသုံးပြုမည့် ဆိုလာစွမ်းအင်သုံး လျှပ်စစ်ဓာတ်အား ရောင်းချမည့်ပုံစံမှာ အောက်ပါအတိုင်းဖြစ်ပါသည်-

| ထုတ်လုပ်မည့် လျှပ်စစ်ဓာတ်အား(kWh/site) | No of sites | Revenue per month per site (US$) |
|---|---|---|
| ၁၅ | ၂၂၈ | ၁,၄၀၀ |
| ၃၀ | ၁၃၂ | ၂,၁၂၈ |
| ၄၅ | ၁၅ | ၂,၆၀၀ |

၈။ လုပ်ငန်းနှင့်စပ်လျဉ်း၍ သက်ဆိုင်ရာဌာန၊ အဖွဲ့အစည်းများသို့ သဘောထားမှတ်ချက်တောင်းခံခဲ့ရာ အောက်ပါအတိုင်း ဆောင်ရွက်ရန် လိုအပ်မည်ဖြစ်ကြောင်း သဘောထားပြန်ကြားခဲ့ပါသည်-

(က) **ပို့ဆောင်ရေးနှင့်ဆက်သွယ်ရေးဝန်ကြီးဌာနမှ** ကန့်ကွက်ရန်မရှိကြောင်းနှင့် Tower Operator များနှင့် ချုပ်ဆိုထားသည့် Agreement အားစတင်ဆောင်ရွက်သည့်အချိန်၌ ဆက်သွယ်ရေးညွှန်ကြားမှု ဦးစီးဌာနသို့ တင်ပြအတည်ပြုချက်ရယူသွားရန်လိုအပ်ပါကြောင်း။

**နောက်ဆက်တွဲ-က**

(ခ) **လျှပ်စစ်နှင့် စွမ်းအင်ဝန်ကြီးဌာန**

(၁) အဆိုပါ စီမံကိန်းတည်ဆောက်ရန် ကိစ္စနှင့်စပ်လျဉ်း၍ ဖွဲ့စည်းပုံအခြေခံဥပဒေ ပုဒ်မ (၁၈၈) ဇယား(၂)အရ **ပြည်ထောင်စုကစီမံခန့်ခွဲခွင့်ရှိသည့်အကြီးစားလျှပ်စစ်ဓာတ်အားထုတ်လုပ်ဖြန့်ဖြူးရေးမှအပ မဟာဓာတ်အားလိုင်းနှင့်ဆက်သွယ်ခြင်းမရှိသောတိုင်းဒေသကြီး(သို့မဟုတ်)ပြည်နယ်ကစီမံခန့်ခွဲမှုရှိသည့်အလတ်စားနှင့် အသေးစား လျှပ်စစ်ဓာတ်အား ထုတ်လုပ်ဖြန့်ဖြူးရေး** ဟု ဖော်ပြထားပြီး၂၀၁၄လျှပ်စစ်ဥပဒေတွင် **အသေးစားလျှပ်စစ်ဆိုင်ရာလုပ်ငန်းဆိုသည်မှာ(၁၀မဂ္ဂါဝပ်)အထိထုတ်လုပ်ပေးနိုင်သောလျှပ်စစ်ဆိုင်ရာလုပ်ငန်း**အဖြစ်ဖော်ပြထားရာ အဆိုပြုစီမံကိန်းသည် သက်ဆိုင်ရာတိုင်းဒေသကြီး၏ စီမံခန့်ခွဲမှုဖြင့် အကောင်အထည်ဖော်ဆောင်ရွက်နိုင်သောစီမံကိန်းဖြစ်ကြောင်း။

(၂) Solar Minigridနှင့်Solarhome စနစ်များဖြင့် ကျေးရွာမီးလင်းရေး ဆောင်ရွက်လျက်ရှိသဖြင့် လုပ်ငန်းဆောင်ရွက်မည့်ကျေးရွာများ မထပ်စေရန် စိုက်ပျိုးရေး၊ မွေးမြူရေးနှင့် ဆည်မြောင်းဝန်ကြီးဌာန လက်အောက်ရှိ ကျေးလက်ဒေသဖွံ့ဖြိုးရေး ဦးစီးဌာန (DRD) နှင့်လည်း ညှိနှိုင်းသင့်ပါကြောင်းနှင့်Solar Minigrid ဖြင့် ဓာတ်အားဖြန့်ဖြူးရာတွင် လျှပ်စစ်ဓာတ်အားဖြန့်ဖြူးရေးလုပ်ငန်းကို သတ်မှတ်ထားသော Standard & Specification များအတိုင်း စနစ်တကျတည်ဆောက်သွားရန်လိုအပ်ပါကြောင်း။ **နောက်ဆက်တွဲ-ခ**

(ဂ) **စစ်ကိုင်းတိုင်းဒေသကြီးအစိုးရအဖွဲ့မှ** အဆိုပြုလုပ်ငန်းနှင့်စပ်လျဉ်း၍ ကန့်ကွက်ရန်မရှိကြောင်း။

**နောက်ဆက်တွဲ-ဂ**

(ဃ) **မကွေးတိုင်းဒေသကြီးအစိုးရအဖွဲ့မှ** (National Electrification Plan-NEP) တွင် ပါဝင်သည့် ကျေးရွာ ၁၁ ရွာ ချန်လှပ်၍ ဆောင်ရွက်ခွင့်ပြုသင့်ကြောင်း သဘောထား ပြန်ကြားလာပါသည်။ (ကုမ္ပဏီမှလိုက်နာမည်ဖြစ်ကြောင်း ပြန်လည်တင်ပြထားပါ သည်။)

**နောက်ဆက်တွဲ-ဃ**

၉။ Yoma Micro Power Myanmar Ltd. အမည်ဖြင့် ကမ္ဘောဇဘဏ်(ပြည်ပဘဏ်ဌာနခွဲ)တွင် DBS Bank Ltd.(စင်ကာပူသမ္မတနိုင်ငံ)မှ ၁၉-၁၂-၂၀၁၇ရက်စွဲ ဖြင့် US$ ၂၅,၀၀၀နှင့် ရိုးမဘဏ်တွင် ၃၁-၇-၂၀၁၈ ရက်စွဲဖြင့် US$ ၂၂,၇၄၄.၁၃ ရှိသည့် အထောက်အထား၊ အလုပ်သမားသက်သာချောင်ချိရေးအစီအစဉ်များ၊ မီးဘေးကြိုတင်ကာကွယ်ရေးစီမံချက်နှင့် CSR အစီအစဉ်များကိုလည်း တင်ပြထားပါသည်။

၁၀။ အဆိုပြုလုပ်ငန်းအား ၂၀၁၈ ခုနှစ် နိုဝင်ဘာလ ၅ ရက်နေ့တွင် ကျင်းပသည့် မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်၊ အဆိုပြုချက်စိစစ်ရေးအဖွဲ့၏ ၃၄/၂၀၁၈ ကြိမ်မြောက်အစည်းအဝေးသို့ တင်ပြခဲ့ပြီးဖြစ်ပါသည်။

**စိစစ်တင်ပြချက်**

၁၁။ အောက်ပါအတိုင်း စိစစ်တင်ပြအပ်ပါသည်-

(က) ရင်းနှီးမြှုပ်နှံမှုနှင့် ကုမ္ပဏီများ ညွှန်ကြားမှုဦးစီးဌာန၊ မူဝါဒနှင့်ဥပဒေရေးရာဌာနခွဲမှ ကော်မရှင် ခွင့်ပြုမိန့်နှင့် ဆုံးဖြတ်ချက်(မူကြမ်း)အား ဥပဒေနှင့် ညီညွတ်မှုရှိကြောင်း စိစစ်ပြီးဖြစ်ပါသည်။

(ခ) ကျေးရွာများတွင် လျှပ်စစ်မီးအား ပုံစံ(Household Application Form) သုံးမျိုးဖြင့် ဖြန့်ဖြူးမည်ဖြစ်ပြီး မီတာဖြင့် ဖြန့်ဖြူးမည့်ပုံစံမှာ ၂၄ နာရီသုံးစွဲနိုင်ပြီး ကနဦးတပ်ဆင်ခ ၇၅,၀၀၀ကျပ်၊ လစဉ်ကြေး ၃,၀၀၀ကျပ်နှင့် နေ့အချိန်တွင် တစ်ယူနစ်လျှင် ၃၀၀ ကျပ်နှင့် ညအချိန်တွင်တစ်ယူနစ်လျှင် ၉၀၀ကျပ်ဖြင့် သုံးစွဲနိုင်မည်ဖြစ်ကြောင်း ဖော်ပြထားသဖြင့် သုံးစွဲခ မြင့်မားကြောင်း တွေ့ရှိရပါသည်။

**ဆုံးဖြတ်ရန်အချက်**

၁၂။ ရခိုင်နွန်းပြည့် နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဖြင့် Yoma Micro Power Myanmar Ltd. မှ စစ်ကိုင်းတိုင်းဒေသကြီးနှင့်မကွေးတိုင်းဒေသကြီးအတွင်း To provide off-grid telecom towers and rural villages, grid-quality electricity through solar-powered micro power plants and mini-grids လုပ်ငန်းအား မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ဥပဒေနှင့်အညီ ဆောင်ရွက်ခွင့်ပြုပါရန် အဆိုပြုချက်တင်ပြ လာခြင်းကိစ္စနှင့်စပ်လျဉ်း၍ ခွင့်ပြုမိန့် ထုတ်ပေးရန် သဘောတူ-မတူ။

ဥက္ကဋ္ဌ(ကိုယ်စား)
(မြသူဇာ၊ တွဲဖက်အတွင်းရေးမှူး)

မိတ္တူကို

ရုံးလက်ခံ/မျှောစာတွဲ




# ရှီးမရိုက်ခရိုပါဝါကုမ္ပဏီ၏ လျှပ်စစ်ဓာတ်အားရရှိရေးလျှောက်လွှာ

အမည် :

ကျေးရွာအမည် :

မှတ်ပုံတင်အမှတ် :

ဖုန်းနံပါတ် :

မိသားစုဝင်ဦးရေ :

| စဉ် | အမည် | တော်စပ်ပုံ | အသက် | အလုပ်အကိုင် |
|---|---|---|---|---|
| | | | | |
| | | | | |
| | | | | |
| | | | | |
| | | | | |

ရှီးမရိုက်ခရိုပါဝါမှ ကျေးရွာရှိ လမ်းမီးများအတွက် ညပိုင်း (၄)နာရီနှင့် ဘုန်းကြီးကျောင်း (သို့) ဘုရားစေတီအတွက် မီးလုံး (၅)လုံးအား ကျသင့်ငွေကောက်ခံခြင်းမရှိပဲ ထောက်ပံ့ပေးပါမည်။ ဘုန်းကြီးကျောင်း (သို့) ဘုရားစေတီများတွင် မီးလုံးများနှင့် အခြားလျှပ်စစ်ပစ္စည်းများ ပိုမိုအသုံးပြုလိုပါက ကျွန်တော်တို့၏ သတ်မှတ်ထားသော ကမ်းလှမ်းချက်ပုံစံများကို ပုံမှန်ဈေးနှုန်းဖြင့် ဝယ်ယူအသုံးပြုနိုင်ပါသည်။ စာသင်ကျောင်းများ၊ ကျေးလက်ဆေးပေးခန်းများ (သို့) ရုံခန်းများကဲ့သို့သော လူထုဆိုင်ရာအဆောက်အဦးများသည်လည်း ကျွန်တော်တို့၏ ဝန်ဆောင်မှုကို ဈေးနှုန်းတစ်ခုဖြင့် ဝယ်ယူအသုံးပြုနိုင်ပါသည်။ ယင်းလူထုအဆောက်အဦးများ အတွက် ဈေးနှုန်းများသည် အသုံးပြုမည့် လျှပ်စစ်ပစ္စည်းများနှင့် အသုံးပြုသည့် အချိန်အရေအတွက်အပေါ် မူတည်ပါသည်။

အောက်ဖော်ပြပါ ပုံစံများတွင် လူကြီးမင်းလိုချင်သော ပုံစံတစ်ခုကို ရွေးချယ်ပေးပါ။ အသုံးပြုလိုသည့် ပုံစံကို " ✓ " အမှတ်အသားဖြင့်ပြပေးပါ။

**ပုံစံ(၁)** ☐

| | |
|---|---|
| တပ်ဆင်ပေးမည့်ပစ္စည်းများ | မီး(၂)လုံး၊ ခလုတ် (၂)ခုနှင့် ပလပ်ပေါက် (၁)ခု |
| အသုံးပြုနိုင်မည့် ပစ္စည်းများ | မီးလုံး(၂)လုံးနှင့် ဖုန်းအားသွင်းခြင်း |
| တစ်ရက်လျှင် လျှပ်စစ်ဓာတ်အား အသုံးပြုနိုင်မည့် အချိန် | (၅) နာရီ (ဥပမာ - မနက်(၄)နာရီမှ (၅)နာရီ၊ ညနေ(၆)နာရီမှ (၁၀)နာရီ |
| တစ်ကြိမ်သာကျသင့်မည့် တပ်ဆင်ခ | ၂၅၀၀၀ ကျပ် |
| လစဉ်ကြေး | ၄၀၀၀ ကျပ် |

**ပုံစံ(၂)** ☐

| | |
|---|---|
| တပ်ဆင်ပေးမည့်ပစ္စည်းများ | မီးလုံး (၃)လုံး၊ ခလုတ် (၃)ခုနှင့် ပလပ်ပေါက် (၂)ခု |
| အသုံးပြုနိုင်မည့် ပစ္စည်းများ | မီးလုံး(၃)လုံး၊ Flat တီဗီ နှင့် ဖုန်းအားသွင်းခြင်း |
| တစ်ရက်လျှင် လျှပ်စစ်ဓာတ်အား အသုံးပြုနိုင်မည့် အချိန် | (၅) နာရီ (ဥပမာ - မနက်(၄)နာရီမှ (၅)နာရီ၊ ညနေ(၆)နာရီမှ (၁၀)နာရီ |
| တစ်ကြိမ်သာ ကျသင့်မည့် တပ်ဆင်ခ | ၅၀၀၀၀ ကျပ် |
| လစဉ်ကြေး | ၈၀၀၀ ကျပ် |

**မီတာ** ☐

| | |
|---|---|
| တပ်ဆင်ပေးမည့်ပစ္စည်းများ | မီးလုံး (၃)လုံး၊ ခလုတ်(၃)ခုနှင့် ပလပ်ပေါက် (၂)ခု |
| အသုံးပြုနိုင်မည့် ပစ္စည်းများ | မီးလုံး(၃)လုံး၊ Flat တီဗီ၊ ထမင်းပေါင်းအိုးနှင့် ဖုန်းအားသွင်းခြင်း |
| တစ်ရက်လျှင် လျှပ်စစ်ဓာတ်အား အသုံးပြုနိုင်မည့် အချိန် | ၂၄ နာရီ |
| တစ်ကြိမ်သာ ကျသင့်မည့် တပ်ဆင်ခ | ၇၅၀၀၀ ကျပ် |
| လစဉ်ကြေး | ၃၀၀၀ ကျပ် |
| နေ့အချိန်အသုံးပြုလျှင် ကျသင့်ငွေ | တစ်ယူနစ်လျှင် (၃၀၀)ကျပ် (မနက် (၈)နာရီ မှ ညနေ (၄)နာရီအတွင်း) |
| ညအချိန်အသုံးပြုလျှင် ကျသင့်ငွေ | တစ်ယူနစ်လျှင် (၅၀၀)ကျပ် (ညနေ (၄) နာရီ မှ မနက် (၈) နာရီအတွင်း) |

သတ်မှတ်ထားတဲ့ ဝန်အား : (ဥပမာအားဖြင့် ထမင်းပေါင်းအိုး = ၆၀၀ ဝပ်)

________________________________________

________________________________________

လက်မှတ်: __________________ ရက်စွဲ: __________________

Yoma Micro Power Myanmar Limited
+95 1 3687 7661 | info@yomamicropower.com | www.yomamicropower.com
Company Registration Number: 270FC/2017-2018(YGN)
The Campus, 1 Office Park, Rain Tree Drive, Pun Hlaing Estate, Hlaing Thayar Township, Yangon, 11401, Myanmar

| No. | ID | Village | Township | District | Lana process | Village | Land Record Department | Tsp Land Management Committee | District | Regional Gov |
|---|---|---|---|---|---|---|---|---|---|---|
| 1 | SAO10022 | Ma Gyi Su | Myin Muu | Sagaing | Yes | Complete | On-process | To process | To process | To process |
| 2 | SAO10033 | Ywar Tha Min | Sa Lin Gyi | Yin Mar Pin | Yes | Complete | Complete | On-process | On-process | On-process |
| 3 | SAO10087 | Sat Luu | Depalyin | Shwe Bo | Yes | Complete | Complete | N/A | N/A | N/A |
| 4 | SAO10092 | Shein Ma Kar | Wetlet | Shwe Bo | Yes | Complete | Complete | Complete | On-process | On-process |
| 5 | SAO10097 | Inn Thar | Yim Mar Pin | Yinmabin | Yes | Complete | To process | To process | To process | To process |
| 6 | SAO10098 | Ka Paing | Yim Mar Pin | Yinmabin | Yes | Complete | On-process | To process | To process | To process |
| 7 | SAO10140 | Moe Tar Gyi | Ka Thar | Ka Thar | Yes | Complete | On-process | To process | To process | To process |
| 8 | SAO10146 | Khar Ton | Maw Laik | Maw Laik | Yes | Complete | To process | To process | To process | To process |
| 9 | SAO10154 | His Potra | Khin U | Shwe Bo | Yes | Complete | Complete | On-process | On-process | On-process |
| 10 | SAO10156 | Sat Pyar Kyin | Depalyin | Shwe Bo | Yes | Complete | To process | To process | To process | To process |
| 11 | SAO10161 | Koe Pin | Pale | Yin Mar Pin | Yes | Complete | Complete | On-process | To process | To process |
| 12 | SAO10167 | Nar Pin | Maw Laik | Mawlaik | Yes | Complete | To process | To process | To process | To process |
| 13 | SAO10169 | Chate Tin | Tigyaing | Kathar | Yes | Complete | On-process | To process | To process | To process |
| 14 | SAO10177 | Kywel Kaw lay | Inndaw | Ka Thar | Yes | Complete | On-process | To process | To process | To process |
| 15 | SAO10180 | Maung Kyaut Taw | Khin U | Shwe Bo | Yes | Complete | Complete | On-process | To process | To process |
| 16 | SAO10181 | Pan Sat | Min Kin | Ka Lay | Yes | Complete | Complete | To process | To process | To process |
| 17 | SAO10182 | Tharsi | Min Kin | Kale | Yes | Complete | Complete | On-process | To process | To process |
| 18 | SAO10185 | Pyi Taw Thar | Kalay | Kale | Yes | Complete | On-process | To process | To process | To process |
| 19 | SAO10190 | Shwe Nyaung Pin | Phaung Pyin | Mawlaik | Yes | Complete | To process | To process | To process | To process |
| 20 | SAO10196 | Nga Pyaw Chan | Ayardaw | Monywa | Yes | Complete | On-process | To process | To process | To process |
| 21 | SGM00722 | Bout Kone | Kanbalu | Kanbalu | Yes | Complete | On-process | To process | To process | To process |
| 22 | SGM00743 | Kim | Kani | Yin Mar Pin | Yes | Complete | On-process | To process | To process | To process |
| 23 | SGM00790 | Naung Ma Lin | Banmauk | Kathar | Yes | Complete | On-process | To process | To process | To process |
| 24 | SGM00859 | Kyaw Taw | Kalaywa | Ka Lay | Yes | Complete | On-process | N/A | N/A | N/A |
| 25 | SGM00877 | Chaung Sone | Yim Mar Pin | Yin Mar Pin | Yes | Complete | To process | To process | To process | To process |
| 26 | SGM00880 | Mhan Kinn | Homalin | KhomTi | Yes | Complete | On-process | To process | To process | To process |
| 27 | SGM00881 | Nat Pin Hla | Wat Lat | Shwe Bo | Yes | Complete | Complete | On-process | To process | To process |
| 28 | SGM00887 | Nyaung Yin Gone | ShweBo | Shwe Bo | Yes | Complete | On-process | To process | To process | To process |
| 29 | SGM00891 | Kywel Chan | Kalay Wa | Ka Lay | Yes | Complete | On-process | To process | To process | To process |
| 30 | SGM00892 | Kyauk Maw | Min Kin | Kale | Yes | Complete | Complete | On-process | On-process | On-process |
| 31 | SGM00896 | Chaung Mi Toe | Butalin | Monywa | Yes | Complete | To process | To process | To process | To process |
| 32 | SGM00901 | Kan Taw | Kani | Yin Mar Pin | Yes | Complete | On-process | To process | To process | To process |

| No. | ID | Village | Township | District | Lana process | Village | Land Record Department | Tsp Land Management Committee | District | Regional Gov |
|---|---|---|---|---|---|---|---|---|---|---|
| 33 | SGM00912 | Shan Taw | De Pae Yinn | Shwe Bo | Yes | Complete | On-process | To process | To process | To process |
| 34 | SGM00914 | Myauk Inn | Taze | Shwe Bo | Yes | Complete | To process | To process | To process | To process |
| 35 | SGM00921 | Lat Pan Kone | Kalaywa | Kale | Yes | Complete | Complete | On-process | On-process | On-process |
| 36 | SGM00928 | I Taung Ywar Thit | Kani | Yin Mar Pin | Yes | Complete | To process | To process | To process | To process |
| 37 | SGM00937 | Yae Yoe | Ayardaw | Monywa | Yes | Complete | On-process | To process | To process | To process |
| 38 | SGM00938 | Gwat | Ye U | Shwe Bo | Yes | Complete | On-process | To process | To process | To process |
| 39 | SGM00947 | Than Ma Taw | Myin Mu | Sagaing | Yes | Complete | To process | To process | To process | To process |
| 40 | SGM00949 | Nar Maw | Homalin | KhomTi | Yes | Complete | On-process | N/A | N/A | N/A |
| 41 | SGM00953 | Htin Zin | Tamu | Tamu | Yes | Complete | On-process | N/A | N/A | N/A |
| 42 | SGT10870 | Second | Kalay | Kale | Yes | Complete | On-process | To process | To process | To process |
| 43 | SGT20422 | Than Tae | Ye U | Shwe Bo | Yes | Complete | On-process | To process | To process | To process |
| 44 | SGT20500 | Shwe Pyi Thit | Katha | Katha | Yes | Complete | On-process | To process | To process | To process |
| 45 | SGT20506 | Man Phar Gyi | Kalaywa | Ka Lay | Yes | Complete | On-process | To process | To process | To process |
| 46 | SGT20508 | Ma Htu | Kalewa | Ka Lay | Yes | Complete | On-process | To process | To process | To process |
| 47 | SGT20512 | Nyaung Pin | Kalaywa | Ka Lay | Yes | Complete | On-process | To process | To process | To process |
| 48 | SGT20514 | Mart Tai | Kathar | Kathar | Yes | Complete | On-process | To process | To process | To process |
| 49 | SGT20746 | Wan Bal Chait | Pale | Yin Mar Pin | Yes | Complete | Complete | On-process | To process | To process |
| 50 | SGT20775 | Alal Kyun | Kathar | Kathar | Yes | Complete | On-process | To process | To process | To process |
| 51 | SGT20776 | Inn Darend | Kathar | Kathar | Yes | Complete | Complete | On-process | To process | To process |
| 52 | SGT20777 | Ma Lai Chone | Htee gyint | Kathar | Yes | Complete | To process | To process | To process | To process |
| 53 | SGT20800 | Kyi Kan | Wetlet | Shwe Bo | Yes | Complete | Complete | On-process | To process | To process |
| 54 | SGT20815 | Inn | Kathar | Kathar | Yes | Complete | Complete | On-process | On-process | On-process |
| 55 | SGT20822 | LayGyi Kone | Wun Tho | Kathar | Yes | Complete | Complete | On-process | On-process | On-process |
| 56 | SGT20841 | Pa Ze Gyi | Kanbalu | Kanbalu | Yes | Complete | On-process | To process | To process | To process |
| 57 | SGT20875 | Aung Myay | Sagaing | Sagaing | Yes | Complete | On-process | To process | To process | To process |
| 58 | SGT20879 | Aung Thar Yar | Kalay | Kalay | Yes | Complete | Complete | On-process | On-process | On-process |
| 59 | SGT20898 | Zin Ka Lin | Kalay | Kale | Yes | Complete | Complete | On-process | On-process | On-process |
| 60 | SGT20908 | Kywn Taw Yay Shin | Kampat | Tamu | Yes | Complete | On-process | N/A | N/A | N/A |
| 61 | SGT20911 | Kan Thar Yar | Kalay | Kalay | Yes | Complete | Complete | On-process | On-process | On-process |
| 62 | SGT20912 | Mawlaik Kalay | Kalay | Kale | Yes | Complete | On-process | To process | To process | To process |
| 63 | SGT20915 | Lae Dhamma | Pale | Yinmabin | Yes | Complete | On-process | To process | To process | To process |
| 64 | SGT20927 | Thel Chaung | Intaw | Kathar | Yes | Complete | To process | To process | To process | To process |

| No | ID | Village | Township | District | Lana process | Village | Land Record Department | Tsp Land Management Committee | District | Regional Gov |
|---|---|---|---|---|---|---|---|---|---|---|
| 65 | SGT20929 | Shwe Yaung Pya | Katha | Kathar | Yes | N/A | N/A | N/A | N/A | N/A |
| 66 | SGT20936 | Kan Ni | Inn Taw | Katha | Yes | Complete | On-process | To process | To process | To process |
| 67 | SGT20943 | Shan Chaung | Min Kin | Kalay | Yes | Complete | Complete | On-process | On-process | On-process |
| 68 | SGT20958 | Yan Lin Naing | Tamuu | Tamu | Yes | Complete | Complete | N/A | N/A | N/A |
| 69 | SGT21053 | Nyan Inn | Kanbalu | Kanbalu | Yes | Complete | On-process | To process | To process | To process |
| 70 | SGT21055 | Thapham Thar | Sagaing | Sagaing | Yes | Complete | Complete | On-process | To process | To process |
| 71 | SGT21066 | Ine Dama | Sagaing | Sagaing | Yes | Complete | Complete | On-process | On-process | On-process |
| 72 | SGT21073 | Pouk Kone | Paung Byin | Maw Laik | Yes | Complete | On-process | To process | To process | To process |
| 73 | SGT30474 | Sabal Nant Thar | Kanbalu | Kanbalu | Yes | Complete | Complete | N/A | N/A | N/A |
| 74 | SGT30494 | Manlu | BanMouk | Kathar | Yes | Complete | On-process | To process | To process | To process |
| 75 | SGT30692 | Gada | Kant Ba Lu | Kanbalu | Yes | Complete | On-process | To process | To process | To process |
| 76 | SGT30698 | Hlway Seik | Kanbalu | Kanbalu | Yes | Complete | On-process | To process | To process | To process |
| 77 | SGT30725 | Kan Ka Lay Kone | Taze | Shwe Bo | Yes | Complete | On-process | To process | To process | To process |
| 78 | SGT30770 | Kyauk Sit Kan | Chaung U | Monywa | Yes | Complete | On-process | To process | To process | To process |
| 79 | SGT30873 | Mann Hwal | Katha | Katha | Yes | Complete | On-process | To process | To process | To process |
| 80 | SGT31004 | Pan Zi Lay | Kanbalu | Kanbalu | Yes | Complete | On-process | To process | To process | To process |
| 81 | SGT31005 | Chaung Ma Gyi | Kanbalu | Kanbalu | Yes | Complete | On-process | To process | To process | To process |
| 82 | SGT31009 | Aung Swar | Taze | Shwe Bo | Yes | Complete | Complete | On-process | On-process | On-process |
| 83 | SGT31010 | Kha Yu Taw | Taze | Shwe Bo | Yes | Complete | On-process | To process | To process | To process |
| 84 | SGT31017 | Ngar Tal Gyi | katha | Katha | Yes | Complete | Complete | N/A | N/A | N/A |
| 85 | SGT31021 | Inn Daung | Tigyaing | Katha | Yes | Complete | On-process | To process | To process | To process |
| 86 | SGT31022 | Bogon | Htichaint | Kathar | Yes | Complete | Complete | On-process | On-process | On-process |
| 87 | SGT31032 | ThanBo | KhinOo | Shwe Bo | Yes | Complete | On-process | To process | To process | To process |
| 88 | SGT31033 | Min Kan Gyi | Khin U | Shwe Bo | Yes | Complete | On-process | To process | To process | To process |
| 89 | SGT31048 | Mon Tai Kyin | Taze | Shwe Bo | Yes | Complete | On-process | To process | To process | To process |
| 90 | SGT31055 | Kine | Kalewa | Kale | Yes | Complete | On-process | To process | To process | To process |
| 91 | SGTR21029 | Taung Si | Kalay | Kale | Yes | Complete | Complete | On-process | To process | To process |

| ဝင်စာအမှတ် | MA-1248 |
|---|---|
| ရက်စွဲ | 18.12.2018 |



နောက်ဆက်တွဲ-က

**ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်**
**ပို့ဆောင်ရေးနှင့် ဆက်သွယ်ရေးဝန်ကြီးဌာန**
**ပြည်ထောင်စုဝန်ကြီးရုံး**

စာအမှတ်၊ ဆသ-၂/ မလ(Yoma Power) / ၂၀၁၈(၄၂၃၀ )
ရက်စွဲ၊ ၂၀၁၈ ခုနှစ်၊ နိုဝင်ဘာလ ၂၃ ရက်

သို့

ဥက္ကဋ္ဌ
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

အကြောင်းအရာ။ **သဘောထားမှတ်ချက်တောင်းခံခြင်းကိစ္စ**

ရည် ညွှန်း ချက်။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ၁၂.၁၁.၂၀၁၈ ရက်စွဲပါ စာအမှတ်၊ မရက - ၅ (လ) / ၈ - ၀၀၆ / ၂၀၁၈ (၃၈၀)

၁။ ရာခိုင်နှုန်းပြည့် နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဖြင့် စင်ကာပူနိုင်ငံ Yoma Micro Power (Singapore) Pte., Ltd. မှ ၉၉.၉% နှင့် Yoma Strategic Investments Ltd. မှ ၀.၁% ထည့်ဝင်ကာ မြန်မာနိုင်ငံတွင် Yoma Micro Power Myanmar Ltd. တည်ထောင်ပြီး ဆိုလာစွမ်းအင်နှင့် အသေးစားလျှပ်စစ်ဓာတ်အားပေးစက်များအား ဆက်သွယ်ရေးတာဝါတိုင်များ၌ တပ်ဆင်၍ ဆက်သွယ်ရေးတာဝါတိုင်များနှင့် ကျေးလက်အိမ်ခြေများအတွက် လျှပ်စစ်ဓာတ်အားဖြန့်ဖြူးရောင်းချခြင်းလုပ်ငန်းအား မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှု ဥပဒေနှင့်အညီ ဆောင်ရွက်ခွင့်ပြုပါရန် တင်ပြလာခြင်းနှင့် စပ်လျဉ်း၍ သဘောထားမှတ်ချက် ပြန်ကြားပေးပါရန် ရည်ညွှန်းစာဖြင့် အကြောင်းကြားလာသည့်ကိစ္စဖြစ်ပါသည်။

၂။ ပို့ဆောင်ရေးနှင့်ဆက်သွယ်ရေးဝန်ကြီးဌာန၊ ဆက်သွယ်ရေးညွှန်ကြားမှုဦးစီးဌာနတွင် လိုင်စင်ရယူထားခြင်းမရှိသော Yoma Micro Power Myanmar Ltd. ၏အဆိုပြုလုပ်ငန်းသည် Telecom Infrastructure များအား ကိုယ်ပိုင်တည်ဆောက် လုပ်ကိုင်သွားခြင်းမဟုတ်ဘဲ Tower Operator များနှင့် ငှားရမ်း၍ ဆိုလာစွမ်းအင်နှင့် အသေးစား လျှပ်စစ်ဓာတ်အားပေးစက်များအား ဆက်သွယ်ရေးတာဝါတိုင်များတွင် တပ်ဆင်ပြီး လျှပ်စစ်ဓာတ်အား ဖြန့်ဖြူးရောင်းချခြင်းလုပ်ငန်းဖြစ်၍ လုပ်ငန်းလိုင်စင် ရယူဆောင်ရွက်ရန် မလိုသောကြောင့် ကန့်ကွက်ရန်မရှိပါကြောင်း ပြန်ကြားအပ်ပါသည်။

၃။ သို့သော်လည်း ဆက်သွယ်ရေးတာဝါတိုင်များမှတဆင့် ချိတ်ဆက်ဆောင်ရွက်ခြင်း ဖြစ်သည့်အတွက် Tower Operator များနှင့် သဘောတူညီမှုပြုလုပ်ထားသည့် Agreement အထောက်အထားအား လုပ်ငန်းများစတင်ဆောင်ရွက်သည့်အချိန် ဤပြည်ထောင်စုဝန်ကြီးဌာန၊ ဆက်သွယ်ရေးညွှန်ကြားမှုဦးစီးဌာနသို့ တင်ပြအတည်ပြုချက်ရယူသွားရန်နှင့် ဆက်သွယ်ရေးကဏ္ဍဆိုင်ရာ နည်းပညာစံချိန်စံညွှန်းကိစ္စများ၊ လှိုင်းနှုန်းစဉ်များ စီမံခန့်ခွဲခြင်းဆိုင်ရာကိစ္စများ၊ အသုံးပြုသူကို အကာအကွယ်ပေးခြင်းဆိုင်ရာကိစ္စများအား ထိခိုက်ပျက်စီးနှောင့်ယှက်ခြင်း မဖြစ်စေရန် လိုအပ်ပါကြောင်း ဖော်ပြအပ်ပါသည်။

ပြည်ထောင်စုဝန်ကြီး (ကိုယ်စား)
(ချစ်ဝေ၊ အမြဲတမ်းအတွင်းဝန်)

မိတ္တူ - ဆက်သွယ်ရေးညွှန်ကြားမှုဦးစီးဌာန



ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်အစိုးရ

လျှပ်စစ်နှင့်စွမ်းအင်ဝန်ကြီးဌာန

နောက်ဆက်တွဲ-ခ

| ဝင်စာအမှတ် | 194.1242 |
|---|---|
| ရက်စွဲ | 17.12.18 |

စာအမှတ်၊ MOEE-၂/(၁၅)/(သဘောထား)/(၁၉၈၀၆)/၂၀၁၈

ရက်စွဲ ၊ ၂၀၁၈ ခုနှစ်၊ ဒီဇင်ဘာလ ၁၃ ရက်

သို့

မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

အကြောင်းအရာ ။ ဆိုလာစွမ်းအင်နှင့် အသေးစားလျှပ်စစ်ဓာတ်အားပေးစက်များအား ဆက်သွယ်ရေးတာဝါတိုင်များတွင် တပ်ဆင်ပြီး လျှပ်စစ်ဓာတ်အားဖြန့်ဖြူးရောင်းချခြင်းလုပ်ငန်းအားဆောင်ရွက်ခွင့်ပြုပါရန် တင်ပြလာခြင်းနှင့်စပ်လျဉ်း၍ သဘောထားမှတ်ချက်ပြန်ကြားခြင်း

ရည်ညွှန်းချက် ။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ၁၂-၁၁-၂၀၁၈ ရက်စွဲပါ စာအမှတ်၊ မရက-၅(လ)/ခ-၀၀၆/၂၀၁၈(၃၈၁)

၁။ စင်္ကာပူသမ္မတနိုင်ငံ Yoma Micro Power (Singapore) Pte. Ltd. မှ ၉၉.၉ % နှင့် Yoma Strategic Investments Ltd. မှ ၀.၁% ထည့်ဝင်၍ မြန်မာနိုင်ငံတွင် Yoma Micro Power Myanmar Ltd. တည်ထောင်ပြီး ဆိုလာစွမ်းအင်နှင့် အသေးစားလျှပ်စစ်ဓာတ်အားပေးစက်များအား စစ်ကိုင်းတိုင်းဒေသကြီး၊ မကွေးတိုင်းဒေသကြီးနှင့် မန္တလေးတိုင်းဒေသကြီးအတွင်းရှိ ဆက်သွယ်ရေးတာဝါတိုင်များတွင် တပ်ဆင်ပြီး ဆက်သွယ်ရေးတာဝါတိုင်များနှင့် ကျေးလက်အိမ်ခြေများသို့ လျှပ်စစ်ဓာတ်အားဖြန့်ဖြူးရောင်းချခြင်းလုပ်ငန်း ဆောင်ရွက်ခွင့်ပြုပါရန် Yoma Micro Power Myanmar Ltd. မှ တင်ပြလာခြင်းအပေါ် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်မှ ရည်ညွှန်းပါစာဖြင့် အကြောင်းကြားလာခဲ့ပါသည်။

၂။ အဆိုပါစီမံကိန်းကို တိုင်းဒေသကြီး (၃) ခုတွင် တည်ဆောက်ရန် တင်ပြထားသော်လည်း စစ်ကိုင်းတိုင်းဒေသကြီးတွင် မြေနေရာ (၁၀၀)၊ မကွေးတိုင်းဒေသကြီးတွင် (၃၄) နေရာကိုသာ တည်ဆောက်မည့်တည်နေရာများအဖြစ် တင်ပြထားပြီး၊ မန္တလေးတိုင်းဒေသကြီးတွင် တည်ဆောက်မည့်တည်နေရာများ ဖော်ပြထားခြင်းမရှိကြောင်း တွေ့ရှိရပါသည်။

၃။ အဆိုပါစီမံကိန်း တည်ဆောက်ရန်ကိစ္စနှင့်စပ်လျဉ်း၍ ဖွဲ့စည်းပုံအခြေခံဥပဒေပုဒ်မ (၁၈၈) ဇယား (၂) အရ " ပြည်ထောင်စုက စီမံခန့်ခွဲခွင့်ရှိသည့် အကြီးစားလျှပ်စစ်ဓာတ်အားထုတ်လုပ်ဖြန့်ဖြူးရေးမှအပ မဟာဓာတ်အားလိုင်းနှင့် ဆက်သွယ်ခြင်းမရှိသော တိုင်းဒေသကြီး (သို့မဟုတ်) ပြည်နယ်က စီမံခန့်ခွဲခွင့်ရှိသည့် အလတ်စားနှင့် အသေးစားလျှပ်စစ်ဓာတ်အားထုတ်လုပ်ဖြန့်ဖြူးရေး" ဟု ဖော်ပြထားပြီး ၂၀၁၄ လျှပ်စစ်ဥပဒေတွင် "အသေးစားလျှပ်စစ်ဆိုင်ရာလုပ်ငန်းဆိုသည်မှာ (၁၀ မဂ္ဂါဝပ်) အထိ ထုတ်လုပ်ပေးနိုင်သော လျှပ်စစ်ဆိုင်ရာလုပ်ငန်း" အဖြစ်ဖော်ပြထားရာ အဆိုပြုစီမံကိန်းသည်

သက်ဆိုင်ရာတိုင်းဒေသကြီး၏ စီမံခန့်ခွဲမှုဖြင့် အကောင်အထည်ဖော်ဆောင်ရွက်နိုင်သော စီမံကိန်း ဖြစ်ပါသည်။

၄။ ထို့အတူ Solar Minigrid နှင့် Solarhome စနစ်များဖြင့် ကျေးရွာမီးလင်းရေး ဆောင်ရွက်လျက်ရှိသဖြင့် လုပ်ငန်းဆောင်ရွက်မည့်ကျေးရွာများ မထပ်စေရန် စိုက်ပျိုးရေး၊ မွေးမြူရေး နှင့် ဆည်မြောင်းဝန်ကြီးဌာနလက်အောက်ရှိ ကျေးလက်ဒေသဖွံ့ဖြိုးရေးဦးစီးဌာန (DRD) နှင့်လည်း ညှိနှိုင်းသင့်ပါကြောင်းနှင့် Solar Minigrid ဖြင့် ဓာတ်အားဖြန့်ဖြူးရာတွင် လျှပ်စစ်ဓာတ်အား ဖြန့်ဖြူးရေးလုပ်ငန်းက သတ်မှတ်ထားသော Standard & Specification များအတိုင်း စနစ်တကျ တည်ဆောက်သွားရန် လိုအပ်ပါကြောင်း သဘောထားမှတ်ချက်ပြန်ကြားအပ်ပါသည်။

ပြည်ထောင်စုဝန်ကြီး( ၈၁ )
(တင်မောင်ဦး၊ အမြဲတမ်းအတွင်းဝန်)

မိတ္တူကို

လျှပ်စစ်စွမ်းအားစီမံရေးဦးစီးဌာန
ရုံးလက်ခံ/ မျှောစာတွဲ




Ds 25
13/12/18

ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်
တိုင်းဒေသကြီးအစိုးရအဖွဲ့
စစ်ကိုင်းတိုင်းဒေသကြီး၊မုံရွာမြို့

နောက်ဆက်တွဲ-ဂ

စာအမှတ် ၊၃ / ၆-၂(၆)/ ( ၂၀၅ )ရင်းနှီးမြှုပ်နှံ
ရက်စွဲ ၊၂၀၁၈ခုနှစ်၊ ဒီဇင်ဘာလ ၁၀ ရက်

သို့

| | |
|---|---|
| င်စာအမှတ် | M4-1231 |
| က်စွဲ | 14.12.2018 |

ဥက္ကဋ္ဌ
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်
အမှတ်(၁)သစ္စာလမ်း၊ ရန်ကင်းမြို့နယ်
ရန်ကုန်မြို့

အကြောင်းအရာ။ **သဘောထားပြင်ဆင်ပေးပို့ခြင်း**

ရည် ညွှန်း ချက်။ စစ်ကိုင်းတိုင်းဒေသကြီးအစိုးရအဖွဲ့၏(၂၆.၁၁.၂၀၁၈)ရက်စွဲပါ စာအမှတ်၊ ၃/၆-၂(၆)/(၁၀၆၃)ရင်းနှီးမြှုပ်နှံ

၁။ ရာခိုင်နှုန်းပြည့်ရင်းနှီးမြှုပ်နှံမှုဖြင့် စင်ကာပူသမ္မတနိုင်ငံ Yoma Micro Power (Singapore)Pte.Ltd. မှ ၉၉.၉%နှင့် Yoma Investments Ltd.မှ ၀.၁% ထည့်ဝင်၍ မြန်မာနိုင်ငံတွင် Yoma Micro Power Myanmar Ltd. တည်ထောင်ပြီး ဆိုလာစွမ်းအင်နှင့် အသေးစားလျှပ်စစ်ဓါတ်အားပေးစက်များအား ဆက်သွယ်ရေးတာဝါတိုင်များတွင် တပ်ဆင်ပြီး ဆက်သွယ်ရေး တာဝါတိုင်များနှင့် ကျေးလက်အိမ်ခြေများအတွက် လျှပ်စစ်ဓါတ်အားဖြန့်ဖြူးရောင်းချခြင်းလုပ်ငန်းအား မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုဥပဒေနှင့်အညီ ဆောင်ရွက်ခွင့်ပြုပါရန် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့ အဆိုပြုတင်ပြလာမှုအပေါ် စစ်ကိုင်းတိုင်းဒေသကြီးရှိ ကျေးရွာ(၁၄၈)ရွာတွင် လျှပ်စစ်ဓါတ်အား ဖြန့်ဖြူးရေးလုပ်ငန်း ဆောင်ရွက်မည့် မြေနေရာများမှာ ၂၀၁၂ခုနှစ်၊လယ်ယာမြေစီမံခန့်ခွဲမှုဥပဒေအရ အခြားနည်းသုံးစွဲခွင့်ရရှိပါက ကန့်ကွက်ရန်မရှိကြောင်း ရည်ညွှန်းစာဖြင့် သဘောထားပေးပို့ပြီးဖြစ်ပါသည်။

၂။ Yoma Micro Power Myanmar Ltd. သည် စစ်ကိုင်းတိုင်းဒေသကြီးအတွင်းရှိ ကျေးရွာ(၁၄၈)ရွာတွင် လျှပ်စစ်ဓါတ်အားဖြန့်ဖြူးရေးလုပ်ငန်းဆောင်ရွက်ရန်အတွက် တာဝါတိုင်များဆောင်ရွက် လျှက်ရှိပြီး မြေပြင်တွင် ဒေသခံပြည်သူများနှင့်အဆင်ပြေလျှက်ရှိကြောင်းတွေ့ရှိရပါသည်။

၃။ သို့ဖြစ်ပါ၍ Yoma Micro Power Myanmar Ltd. မှ ၂၀၁၂ခုနှစ်၊လယ်ယာမြေစီမံခန့်ခွဲမှုဥပဒေအရ အခြားနည်းသုံးစွဲခွင့်လျှောက်ထားသည့်ကာလအတွင်း လုပ်ငန်းကြန့်ကြာမှု မရှိစေဘဲ အချိန်မီပြီးစီးရေးအတွက် တိုင်းဒေသကြီးအတွင်း ကျေးရွာ(၁၄၈)ရွာတွင် ဆိုလာစွမ်းအင်သုံး အသေးစားဓါတ်အားပေးစက်ရုံ တည်ဆောက်ရေးလုပ်ငန်း ဆောင်ရွက်နေမှုအား ကန့်ကွက်ရန်မရှိကြောင်း သဘောထား ပြင်ဆင်ပေးပို့အပ်ပါသည်။

10/12/18

ဝန်ကြီးချုပ်(ကိုယ်စား)
(ကမ်ဇာမုံ၊စိုက်ပျိုးရေး၊မွေးမြူရေးနှင့်ဆည်မြောင်းဝန်ကြီး)

D/DTTA(DICA-2018)

မိတ္တူကို

တိုင်းဒေသကြီးရင်းနှီးမြှုပ်နှံမှုနှင့်ကုမ္ပဏီများညွှန်ကြားမှုဦးစီးဌာန

မုံရွာမြို့

Yoma Micro Power Myanmar Ltd.

ရုံးလက်ခံ

မျှောစာတွဲ



ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်
မကွေးတိုင်းဒေသကြီးအစိုးရအဖွဲ့
မကွေးမြို့

နောက်ဆက်တွဲ-ဃ

စာအမှတ်၊ ၄/၇-၃၆(သသလ )(၉၄၅)/ ဦး ၆
ရက်စွဲ ၊ ၂၀၁၈ခုနှစ်၊ နိုဝင်ဘာလ ၃၀ ရက်

ဥက္ကဋ္ဌ
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်
နေပြည်တော်

အကြောင်းအရာ။ **သဘောထားမှတ်ချက်ပြန်ကြားခြင်း**

ရည် ညွှန်း ချက်။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ (၁၂.၁၁.၂၀၁၈)ရက်စွဲပါ စာအမှတ်၊ မရက-၅(လ)/ခ-၀၀၆/၂၀၁၈(၃၇၉)

၁။ မကွေးတိုင်းဒေသကြီးအတွင်းရှိ ကျေးရွာ(၃၄)ရွာတွင် Yoma Micro Power Myanmar Limited မှ လျှပ်စစ်ဓာတ်အားဖြန့်ဖြူးရောင်းချခြင်းလုပ်ငန်းအား ဆောင်ရွက်ပေးသွားမည်ဖြစ်၍ မကွေးတိုင်းဒေသကြီးအစိုးရအဖွဲ့အနေဖြင့် ဆောင်ရွက်ခွင့်ပြုပေးနိုင်ခြင်းရှိ/မရှိ ပြန်ကြားပေးပါရန် ရည်ညွှန်းပါစာဖြင့် ညှိနှိုင်းလာမှုအပေါ် သဘောထားပြန်ကြားနိုင်ရေး တိုင်းဒေသကြီး လျှပ်စစ်ဓာတ်အားဖြန့်ဖြူးရေးလုပ်ငန်းသို့ အကြောင်းကြားခဲ့ရာ အောက်ပါကျေးရွာများမှာ လက်ရှိမီးလင်းပြီး ကျေးရွာများ၊ ၂၀၁၈-၂၀၁၉ဘဏ္ဍာနှစ်တွင် မီးလင်းရေးဆောင်ရွက်တော့မည့် ကျေးရွာများ၊ NEP(၂)မိုင်အတွင်း ကျေးရွာများနှင့် ၂၀၁၉-၂၀၂၀ ဘဏ္ဍာနှစ်များတွင် ဆောင်ရွက်ရန်လျာထားသည့် ကျေးရွာများဖြစ်ကြောင်းနှင့် ကျန်ကျေးရွာများမှာ ဘက်ဂျက်ရရှိမှုအပေါ်မူတည်၍ ပြည်ထောင်စုဘတ်ဂျက်ဖြင့် (၁၀)နှစ်အတွင်းဆောင်ရွက်မည့်ခွဲရုံကြီးများ တည်ဆောက်ပြီးစီးပါက မီးလင်းနိုင်မည့် ကျေးရွာများဖြစ်ပါကြောင်း ပြန်လည်တင်ပြလာပါသည်-

(က) ချောက်မြို့နယ်၊ ဆင်ဖြူကျွန်းဘူတာရုံ

(ခ) မြိုင်မြို့နယ်၊ ရွာရှည်ကျေးရွာ

(ဂ) ပခုက္ကူမြို့နယ်၊ ပခုက္ကူဘူတာရုံ

(ဃ) ဆောမြို့နယ်၊ အကြည်ပန်းပလွန်းကျေးရွာ

(င) ဆိပ်ဖြူမြို့၊ မာလာမြိုင်ရပ်

(စ) အောင်လံမြို့နယ်၊ မောက်တင်ကျေးရွာ

(ဆ) ဆိပ်ဖြူမြို့နယ်၊ ကဖွန်းမကျေးရွာ

(ဇ) ဂန့်ဂေါမြို့နယ်၊ လောင်ထောင်သစ်တောဧရိယာအနီးရှိ လယ်မနှင့်ပြည့်မကျေးရွာများ

(ဈ) မင်းတုန်းမြို့နယ်၊ မြောက်ပြင်ကျေးရွာ

(ည) ဆိပ်ဖြူမြို့နယ်၊ အုံးပင်ကျေးရွာ

(ဋ) အောင်လံမြို့နယ်၊ စမ်းကလေးကျေးရွာ

EC(Report)

၂။ အဆိုပါကိစ္စနှင့်ပတ်သက်၍ (၂၈-၁၁-၂၀၁၈)ရက်နေ့တွင် ကျင်းပပြုလုပ်သည့် မကွေးတိုင်းဒေသကြီးအစိုးရအဖွဲ့ အစည်းအဝေးအမှတ်စဉ်(၄၇/၂၀၁၈)သို့ တင်ပြဆွေးနွေးခဲ့ရာ ဆုံးဖြတ်ချက်အပိုဒ်(၂၆)အရ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်မှ သဘောထားတောင်းခံလာသည့် (၃၄)ရွာအနက်မှ အထက်ဖော်ပြပါ (၁၁)ရွာချန်လှပ်၍ ဆောင်ရွက်ခွင့်ပြုသင့်ကြောင်း အကြောင်းပြန်ကြားရန်ဆုံးဖြတ်ထားသဖြင့် မကွေးတိုင်းဒေသကြီးအစိုးရအဖွဲ့၏ သဘောထားအားသိရှိနိုင်ပါရန် ပြန်ကြားအပ်ပါသည်။

၃၀-၁၁-၂၀၁၈

ဝန်ကြီးချုပ် (ကိုယ်စား)

( မြင့်ဇော်၊ သယံဇာတ၊ သဘာဝပတ်ဝန်းကျင်၊ လျှပ်စစ်နှင့်စွမ်းအင်ဝန်ကြီး )

မိတ္တူကို

အတွင်းရေးမှူး၊ မကွေးတိုင်းဒေသကြီးအစိုးရအဖွဲ့

မကွေးတိုင်းဒေသကြီးလျှပ်စစ်ဓာတ်အားဖြန့်ဖြူးရေးလုပ်ငန်း

လှည့်လည်စာတွဲ

ရုံးလက်ခံ

EC(Report)